ကော်မရှင်၏ ၁၂/၂၀၀၈ အစည်းအဝေး

အကြောင်းအရာ။ ။ ကံကောင်းခြင်းရတနာထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (Jewellery Lucky Production Co., Ltd) မှ သစ်အခြေခံ ကုန်ချော ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် သစ်တောရေးရာ ဝန်ကြီးဌာနမှ တဆင့် အဆိုပြု တင်ပြခြင်းကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky production Co., Ltd) (၂၀-၁၁-၂၀၀၇ နေ့တွင် မှတ်ပုံတင်ပြီး ၁၉-၁၁-၂၀၀၉ နေ့အထိ သက်တမ်းတိုးခွင့်ရရှိထားပါသည်) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးကျော်စိန် |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | သစ်အခြေခံကုန်ချောပစ္စည်းများထုတ်လုပ်သည့်လုပ်ငန်း (အဆိုပြုလွှာ လက်ခံရရှိသည့်နေ့စွဲ ၁၅-၂-၂၀၀၈) |
| ၄။ | တည်နေရာ | ကွင်းအမှတ်(၁၁၇)၊တောင်ရင်းကွင်း၊ဘယ်လင်းကျေးရွာ၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်း။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၅၂၀.၄၀ သန်း (US$ ၀.၃၃ သန်းအပါအဝင်) |
| | - ငွေပမာဏ | ၁၂၀.၀၀ |
| | - အဆောက်အအုံ | ၁၁၀၆.၇၀ |
| | - ကနဦးကုန်ကြမ်းစရိတ် | ၂.၀၀ (US$ ၀.၃၃ သန်း) |
| | - စက်ပစ္စည်းကိရိယာများ | ၁၂၇၂.၇၀ |
| | - ရုံးသုံးပရိဘောဂများ | ၂၀.၀၀ |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | (၈.၀၀) ဧက (၃၂၃၇၄.၈၈ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | မန္တလေးတိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ကုမ္ပဏီ ၏ အုပ်ချုပ်မှုဒါရိုက်တာဦးကျော်စိန်အမည်ဖြင့် သစ်အချောထည်လုပ်ငန်းလုပ်ကိုင်ရန်အသုံးပြုခွင့်ရရှိထားသော မြေ။ |
| | - မြေအမျိုးအစား | (လန- ၃၉) မြေ |
| | - အဆောက်အဦလိုအပ်ချက် | - စက်ရုံအဆောက်အဦ ၃ လုံး<br>- (၁၃၂' x ၁၅၇')<br>- (၁၃၀' x ၅၃၇')<br>- (၁၈၀' x ၂၀၀')<br>- ရုံးခန်းနှင့် အရောင်းပြခန်း ၁ လုံး<br>- အရာထမ်း/အမှုထမ်းအိမ် ၄ လုံး<br>- ထမင်းစားဆောင် ၁ လုံး<br>- ဆေးခန်း ၁ လုံး<br>စုစုပေါင်း ၁၀ လုံး |

| | | | |
|---|---|---|---|
| ၇။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ကျွန်း(ကုဗမီတာ) | သစ်မာ(ကုဗမီတာ) |
| | - Veneer | ၇၀၂ | ၂၃၁၈ |
| | - Ply Wood (Formica) | ၄၆၈ | ၂၀၂၉ |
| | - Parquet | ၉၃၆ | - |
| | - Furniture Components | ၂၃၄ | ၁၄၄၉ |
| ၈။ | ရောင်းချမည့်နည်းစနစ် | ပြည်တွင်းရောင်း ၃၀% | |
| | | ပြည်ပရောင်း ၇၀% | |
| ၉။ | ရောင်းဈေးနှုန်း(ပုံမှန်နှစ်) | ပြည်တွင်း (တစ်ကုဗမီတာနှုန်း) | ပြည်ပ (တစ်ကုဗမီတာနှုန်း) |
| | Teak | | |
| | - Veneer | ၂၀၅၀.၀၀ (~~ကျပ်ထောင်~~) | ၁၆၅၀.၀၀ US$ |
| | - Ply Wood (Formica) | ၁၈၃၅.၀၀ ॥ | ၁၅၅၀.၀၀ ॥ |
| | - Parquet | ၁၀၀၄.၀၀ ॥ | ၂၂၇၀.၀၀ ॥ |
| | - Furniture Components | ၁၀၄၈.၀၀ ॥ | ၂၅၀၀.၀၀ ॥ |
| | Hardwood | | |
| | - Veneer | ၁၇၉၆.၀၀ ॥ | ၁၄၁၀.၀၀ ॥ |
| | - Ply Wood (Formica) | ၁၇၀၀.၀၀ ॥ | ၁၃၀၀.၀၀ ॥ |
| | - Furniture Components | ၈၂၅.၀၀ ॥ | ၁၂၅၀.၀၀ ॥ |
| ၁၀။ | ဝင်ငွေ(ပုံမှန်နှစ်) | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၈.၆၂ သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၃၆၈၈.၃၀ သန်း | |
| ၁၁။ | စရိတ်နုတ်ပြီးဝင်ငွေ(ပုံမှန်နှစ်) | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၂.၉၅ သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၆၈၆.၅၃ သန်း | |
| | | - လုပ်ငန်း ဆောင်ရွက်ခြင်း ဖြင့် ပုံမှန်နှစ် တွင် နိုင်ငံခြား ဝင်ငွေ US$ (၈.၆၂)သန်း ရရှိမည်ဖြစ်ပြီး၊ ကုန်ကြမ်း စရိတ် US$ (၄.၁၆)သန်း၊ နိုင်ငံတော်သို့ပေးသွင်းငွေ များ ဖြစ်သည့် မြန်မာ့သစ်လုပ်ငန်းအတွက်စုစုပေါင်းဝင်ငွေ ၏ ၁% ပေးဆောင်ခြင်း၊ ပြည်ပရောင်းရငွေအပေါ် ၁၀ % အခွန်ပေးဆောင်ခြင်း၊ သစ်တောစိမ်းလန်းစိုပြေရေး ရန်ပုံငွေ ပေးသွင်းခြင်း နှင့် နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ၁၅% ပေးဆောင်ခြင်း များ အတွက် US$ (၁.၅၁) သန်း အပါအဝင် စုစုပေါင်း အသုံးစရိတ် US$ (၅.၆၇) သန်းရှိသဖြင့် စရိတ်နုတ်ပြီး နိုင်ငံခြားဝင်ငွေ US$ (၂.၉၅) သန်းရှိကြောင်း စိစစ်ရပါသည်။ ကျပ်ငွေဖြင့် ဝင်ငွေ မှာ ကျပ် (၃၆၈၈) သန်း ရရှိမည် ဖြစ်ပြီး ကုန်ကြမ်း စရိတ် ကျပ် (၁၁၃၄)သန်း၊ | |

| | | |
|---|---|---|
| | | နိုင်ငံတော်သို့ ပေးသွင်းငွေများ ဖြစ်သည့် မြန်မာ့သစ်လုပ်ငန်းအတွက် စုစုပေါင်းဝင်ငွေ ၏ ၁% ပေးဆောင်ခြင်း၊ ပြည်တွင်းရောင်းရငွေ ပေါ် ကုန်သွယ်လုပ်ငန်း ခွန် ၂၅ % ၊ ကျပ်ငွေဖြင့် ရရှိသော အမြတ်ငွေအပေါ် ဝင်ငွေခွန်၃၀% ပေးဆောင်ခြင်းများ အတွက် ကျပ် (၁၂၅၃) သန်း၊ လစာစရိတ်နှင့် စက်ရုံ ဝန်ဆောင်စရိတ် ကျပ် (၆၁၅) သန်း ရှိ၍ကျပ်ငွေဖြင့် စုစု ပေါင်း အသုံးစရိတ် ကျပ်(၃၀၀၂) သန်း ရှိသောကြောင့် စရိတ် နုတ်ပြီးဝင်ငွေ ကျပ်(၆၈၆) သန်း ရှိကြောင်း စိစစ် တင်ပြအပ်ပါသည်။ |
| ၁၂။ | အရင်းကြေကာလ | (၃) နှစ် နှင့် (၁၁)လ<br>- လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာကျပ်(၂၅၂၀.၄၀) သန်းဖြစ်ပြီး လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် နိုင်ငံခြားငွေနှင့် ကျပ်ငွေဖြင့် ရရှိမည့် စုစုပေါင်းစရိတ်နုတ်ပြီး ဝင်ငွေကျပ် (၇၀၄.၀၀)သန်း ရရှိကြောင်းခန့်မှန်းရသဖြင့် (၄)နှစ်မြောက်တွင် အရင်းကြေမည်ဖြစ်ကြောင်း စိစစ်ရပါသည်။ |
| ၁၃။ | အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ( ၂၄.၉) ရာခိုင်နှုန်း |
| ၁၄။ | နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်<br>- ဝင်ငွေခွန်<br><br>-ကုန်သွယ်လုပ်ငန်းခွန် (ပြည်တွင်းရောင်းရငွေပေါ် ၂၅ %)<br>(ပြည်ပရောင်းရငွေပေါ် ၁၀%)<br>-Forest Rehabilitation Fees<br>- မြန်မာ့သစ်လုပ်ငန်းမှရငွေ (စုစုပေါင်းဝင်ငွေ၏ ၁%) | <br><br>US$ ၀.၅၂ သန်း<br>ကျပ် ၂၉၄.၂၃ သန်း<br><br>ကျပ် ၉၂၂.၀၇ သန်း<br><br>US$ ၀.၈၆ သန်း<br>US$ ၀.၀၄ သန်း<br>ကျပ် ၁၆.၈၈ သန်း<br>US$ ၀.၀၉ သန်း |
| ၁၅။ | လုပ်သားအင်အား | ၁၅၃ ဦး<br>ပြည်တွင်း ၁၅၀ ဦး<br>ပြည်ပ ၃ ဦး |
| ၁၆။ | တည်ဆောက်မှုကာလ | (၁) နှစ် |
| ၁၇။ | စက်ပစ္စည်းဝယ်ယူမှုနှင့် ငွေကြေးခိုင်မာမှုအထောက်အထား | - လုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများ ကို ပြည်တွင်းရှိကုမ္ပဏီများနှင့် အရောင်းဆိုင်များမှ ဝယ်ယူမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ငွေကြေးဆိုင်ရာအထောက်အထားအဖြစ် Jewellery Luck Co., Ltd အမည်ဖြင့် မြန်မာ့ နိုင်ငံခြား ကုန်သွယ်မှု ဘဏ်ရှိ နိုင်ငံခြားငွေ လက်ကျန် တင်ပြထားရာ လုပ်ငန်း ဆောင်ရွက်နိုင်ကြောင်း စိစစ်ရ ပါသည်။ |
| ၁၈။ | စာချုပ်ပါအဓိကအချက်များ | - သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့ သစ်လုပ်ငန်း နှင့် ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် တို့အကြား ချုပ်ဆိုမည့် သစ်ခြေခံ လုပ်ငန်း ဆိုင်ရာ သဘောတူ စာချုပ် (မူကြမ်း)ပါအဓိကအချက်များမှာ -<br>- လုပ်ငန်းကာလမှာ တည်ဆောက်ရေး ကာလ တစ်နှစ် ပြည့်သည့် နေ့မှစ၍ ကနဦး (၁၅)နှစ်ဖြစ်ပါသည်။<br>[စာချုပ်(မူကြမ်း)အပိုဒ် ၃(ဃ)]<br>- ဘဏ်အာမခံငွေအဖြစ် လုပ်ငန်း မတည်ငွေရင်း၏ ၁% နှင့် ညီမျှသော ငွေအား စာချုပ် လက်မှတ် ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း မြန်မာ့သစ်လုပ်ငန်းအမည်ဖြင့် MICB ဘဏ်တွင် ထားရှိ ရမည် ဖြစ်ပြီး လုပ်ငန်းစတင် လုပ်ကိုင်သည့်အချိန်တွင်ပြန်လည်ထုတ်ယူနိုင်သည်။<br>[စာချုပ်(မူကြမ်း)အပိုဒ် ၅]<br>- သစ်တောစိမ်းလန်းစိုပြေရေး ရန်ပုံငွေအဖြစ် ကျွန်းသစ် တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၈)ဒေါ်လာနှုန်းနှင့် သစ်မာတစ်တန်လျှင် အမေရိကန်ဒေါ်လာ (၅)ဒေါ်လာ နှုန်းဖြင့် သစ်တောဦးစီးဌာနသို့ပေးသွင်းရမည်။<br>[စာချုပ်(မူကြမ်း)အပိုဒ် ၇(စ)]<br>- လုပ်ငန်းမှရရှိသော စုစုပေါင်းဝင်ငွေ၏ ၁% ကို မြန်မာ့ သစ်လုပ်ငန်းသို့နှစ်စဉ်ပေးသွင်းရမည်။<br>[စာချုပ်(မူကြမ်း)အပိုဒ် ၇(ဆ)] |
| ၁၉။ | သက်ဆိုင်ရာဝန်ကြီးဌာနများမှ သဘောထားမှတ်ချက် | - ကုမ္ပဏီသည် သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့ သစ်လုပ်ငန်းမှသတ်မှတ်ထားသောစည်းကမ်း သတ်မှတ် ချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ မြန်မာ့သစ်လုပ်ငန်းတွင်ဝန်ခံကတိပြု လက်မှတ်ရေးထိုး ထားသည့် ကတိဝန်ခံချက်ကို တင်ပြထားပါသည်။<br>- အဆိုပြုချက်ပါလုပ်ငန်းအတွက်လျှပ်စစ်ဓါတ်အားတစ်နှစ် (၆၀၀) KVA လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ (၂၇-၂-၂၀၀၈) ရက်စွဲ ဖြင့် သဘောထားတောင်းခံထားပါသည်။ |

| | | |
|---|---|---|
| ၂၀။ | ကတိဝန်ခံချက်များ | - ယင်း လုပ်ငန်းသည် မြန်မာ နိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊<br>- မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊<br>- ကုန်ချောများကို ပြည်ပသို့ တင်ပို့ရန် ဈေးကွက်ရှိ ပြီးဖြစ်ကြောင်း၊<br>- လုပ်ငန်းခွင်အန္တရာယ်နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊<br>- ဝယ်ယူမည့်စက်ပစ္စည်းများ အသစ်ဖြစ်ကြောင်း၊<br>- လုပ်ငန်းအသစ်ဖြစ်ကြောင်းဝန်ခံကတိပြုထားပါသည်။ |
| ၂၁။ | အခွန်ကင်းလွတ်ခွင့်/သက်သာခွင့် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ |
| ၂၂။ | ခွင့်ပြုမိန့်ထုတ်ပေးပြီးအခြေအနေ | - မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုမိန့်ထုတ်ပေးပြီး သစ်အခြေခံစက်မှု လုပ်ငန်း (၆၅) ခု တွင် ခွင့်ပြုမိန့်ပြန်လည်အပ်နှံသော လုပ်ငန်း(၅)ခု ရှိ သဖြင့် လုပ်ငန်း(၆၀)ခု ဆောင်ရွက်လျှက်ရှိပါသည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၄၄၉/၂၀၀၈(၁၈၄၅)
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဇွန်လ ၂၄ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ ကံကောင်းခြင်းရတနာထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်(Jewellery Lucky Production Co., Ltd ) မှ သစ်အခြေခံ ကုန်ချော ပစ္စည်းများ ထုတ်လုပ် သည့် လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် သစ်တော ရေးရာ ဝန်ကြီး ဌာနမှ တဆင့် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် ( Jewellery Lucky Production Co., Ltd ) သည် ကုမ္ပဏီ ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဦးကျော်စိန် အမည်ဖြင့် မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ သစ် အချောထည် လုပ်ငန်း လုပ်ကိုင်ရန် အသုံးပြုခွင့် ရရှိထားသော ကွင်းအမှတ် (၁၁၇)၊ တောင်ရင်းကွင်း၊ ဘယ်လင်း ကျေးရွာ၊ စဥ့်ကိုင် မြို့နယ်၊ ကျောက်ဆည် ခရိုင်၊ မန္တလေးတိုင်းရှိ လန(၃၉)မြေ (၈.၀၀)ဧက (၃၂၃၇၄.၈၈ စတုရန်းမီတာ) တွင် သစ်အခြေခံ ကုန်ချောပစ္စည်း များ ထုတ်လုပ်သည့်လုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် သစ်တောရေးရာဝန်ကြီးဌာနမှတဆင့်အဆိုပြုတင်ပြလာပါသည်။အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) ဖြင့် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၃၃)သန်း အပါအဝင် စုစုပေါင်း ကျပ်(၂၅၂၁.၄၀)သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ်(၁၂၀.၀၀)သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဖိုး ကျပ်(၁၂၇၂.၇၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ်(၁၁၀၆.၇၀)သန်း၊ ရုံးသုံး ပရိဘောဂတန်ဖိုး ကျပ်(၂၀.၀၀)သန်း၊ ကနဦးကုန်ကြမ်း တန်ဖိုး ကျပ်(၂.၀၀)သန်း (အမေရိကန် ဒေါ်လာ၀.၃၃ သန်း)ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ လုပ်ငန်းအတွက်အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများကို ပြည်တွင်းရှိကုမ္ပဏီများနှင့် အရောင်းဆိုင်များမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၃။ သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့ သစ်လုပ်ငန်း နှင့် ကံကောင်းခြင်း ရတနာ ထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုမည့်သစ်အခြေခံလုပ်ငန်းဆိုင်ရာသဘောတူ စာချုပ် (မူကြမ်း)ပါအဓိကအချက်များမှာ-

(က) လုပ်ငန်းကာလမှာ တည်ဆောက်ရေးကာလတစ်နှစ်ပြည့်သည့်နေ့မှစ၍ကနဦး (၁၅)နှစ် ဖြစ်ပါသည်။

(ခ) ဘဏ်အာမခံငွေ အဖြစ် လုပ်ငန်းမတည်ငွေရင်း၏ ၁% နှင့် ညီမျှသော ငွေအား စာချုပ် လက်မှတ် ရေးထိုးပြီး ရက်ပေါင်း (၃၀) အတွင်း မြန်မာ့ သစ်လုပ်ငန်း အမည်ဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် ထားရှိရမည် ဖြစ်ပြီး လုပ်ငန်း စတင် လုပ်ကိုင်သည့် အချိန်တွင် ပြန်လည် ထုတ်ယူနိုင်သည်။

(ဂ) သစ်တောစိမ်းလန်းစိုပြေရေးရန်ပုံငွေအဖြစ်ကျွန်းသစ်တစ်တန်လျှင်အမေရိကန် ဒေါ်လာ (၈)ဒေါ်လာနှုန်း နှင့် သစ်မာ တစ်တန်လျှင် အမေရိကန် ဒေါ်လာ (၅) ဒေါ်လာနှုန်းဖြင့် သစ်တောဦးစီးဌာနသို့ပေးသွင်းရမည်။

(ဃ) လုပ်ငန်းမှရရှိသော စုစုပေါင်းဝင်ငွေ၏ တစ်ရာခိုင်နှုန်းကို မြန်မာ့ သစ်လုပ်ငန်းသို့ နှစ်စဉ်ပေးသွင်းရမည်။

၄။ ကုမ္ပဏီသည် သစ်တောရေးရာဝန်ကြီးဌာန၊မြန်မာ့သစ်လုပ်ငန်းမှသတ်မှတ်ထားသော စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း မြန်မာ့ သစ်လုပ်ငန်းတွင် ဝန်ခံကတိပြု လက်မှတ်ရေးထိုးထားသည့် ကတိဝန်ခံချက်ကို တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်းမှထွက်ရှိသော သစ်အခြေခံကုန်ချောပစ္စည်းများကို ပြည်တွင်းတွင် (၃၀)ရာခိုင်နှုန်း ရောင်းချ၍ ပြည်ပသို့ (၇၀)ရာခိုင်နှုန်း တင်ပို့မည် ဖြစ်ပါသည်။ လုပ်ငန်းမှ ပုံမှန်နှစ်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ကုဗမီတာ) | | တစ်ကုဗမီတာရောင်းဈေးနှုန်း | | | |
|---|---|---|---|---|---|---|---|
| | | ကျွန်း | သစ်မာ | ပြည်တွင်း (ကျပ်သန်း) | | ပြည်ပ (အမေရိကန်ဒေါ်လာ) | |
| | | | | ကျွန်း | သစ်မာ | ကျွန်း | သစ်မာ |
| ၁။ | Veneer | ၇၀၂ | ၂၃၀၈ | ၂.၀၅ | ၁.၈၀ | ၁၆၅၀ | ၁၄၀၀ |
| ၂။ | Ply Wood (Formica) | ၄၆၈ | ၂၀၂၉ | ၁.၈၄ | ၁.၇၀ | ၁၅၅၀ | ၁၃၀၀ |
| ၃။ | Parquet | ၉၃၆ | - | ၁.၀၀ | - | ၂၂၇၀ | - |
| ၄။ | Furniture Components | ၂၃၄ | ၁၄၄၉ | ၁.၀၅ | ၀.၈၃ | ၂၅၀၀ | ၁၂၅၀ |
| | စုစုပေါင်း | ၂၃၄၀ | ၅၇၉၆ | | | | |



*Jewellery Lucky.m

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၃၆၈၈.၃၀ | ၅၁.၇၀ | ၃၇၄၀.၀၀ |
| (ခ) | အသုံးစရိတ် | ၃၀၀၁.၇၇ | ၃၄.၀၀ | ၃၀၃၅.၇၇ |
| (ဂ) | အသားတင်အမြတ် | ၆၈၆.၅၃ | ၁၇.၇၀ | ၇၀၄.၂၃ |

၇။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၃)နှစ် နှင့် (၁၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၄.၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်း ဖြင့် နိုင်ငံတော် မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၅၂ သန်း |
| | | ကျပ် | ၂၉၄.၂၃ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၈၆ သန်း |
| | | ကျပ် | ၉၂၂.၀၇ သန်း |
| (ဂ) | Forest Rehabilitation Fees | အမေရိကန်ဒေါ်လာ | ၀.၀၄ သန်း |
| (ဃ) | မြန်မာ့သစ်လုပ်ငန်းမှရငွေ | အမေရိကန်ဒေါ်လာ | ၀.၀၉ သန်း |
| | (စုစုပေါင်းဝင်ငွေ၏ ၁%) | ကျပ် | ၃၆.၈၈ သန်း |

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း လုပ်သား (၃၅၀)ဦး နှင့်ပြည်ပ လုပ်သား (၃)ဦး ခန့်ထားမည်ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်း နှင့် စပ်လျဉ်း၍ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ အဆိုပြု လုပ်ငန်းအတွက် လိုအပ်သော လျှပ်စစ်ဓါတ်အား (၆၀၀)ကေဗွီအေအား ဓါတ်အားဖြန့်ဖြူး ပေးနိုင် ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

၁၁။ ကံကောင်းခြင်းရတနာ ထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်အား ကုမ္ပဏီဖွဲ့စည်း မှတ်ပုံတင်နိုင်ရန်အတွက် အဆိုပါ ကုမ္ပဏီသည် စိစစ်နိုင်ခြင်း မရှိသော ကုမ္ပဏီများ စာရင်းတွင် မပါဝင်ကြောင်း၊ ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များသည် နိုင်ငံရေး၊ စီးပွားရေး၊ ပြစ်မှု မှတ်တမ်း မရှိပါကြောင်း ပြည်ထဲရေးဝန်ကြီးဌာနမှ စိစစ် ပြန်ကြားချက်အရ အမျိုးသားစီမံကိန်း နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာနမှ ကုမ္ပဏီဖွဲ့စည်းမှတ်ပုံတင်ခွင့် ပြုခဲ့ကြောင်း စိစစ်တွေ့ရှိရ ပါသည်။



*Jewellery Lucky.m

၁၂။ ငွေကြေး ဆိုင်ရာ အထောက်အထား အဖြစ် ကုမ္ပဏီ အမည်ဖြင့် မြန်မာ့ နိုင်ငံခြားကုန်သွယ်မှုဘဏ်ရှိ နိုင်ငံခြားငွေလက်ကျန် တင်ပြထားရာ လုပ်ငန်းဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာမည် ဖြစ်ကြောင်း၊ ပြည်ပသို့ တင်ပို့ရန် ဈေးကွက်အခိုင်အမာ ရှိပြီးဖြစ်ကြောင်း၊ လုပ်ငန်း အသစ်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်အန္တရာယ်နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် စီမံဆောင်ရွက်ထားမည်ဖြစ်ကြောင် ဝန်ခံကတိပြုထားပါသည်။

၁၄။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ် လုပ်ငန်းစတင်သော နှစ်အပါအဝင် တဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။

၁၅။ ယင်း အဆိုပြုချက်အား (၉-၄-၂၀၀၈) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၂/၂၀၀၈)အစည်းအဝေးသို့ တင်ပြခဲ့ရာ "ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြရန် " ဆုံးဖြတ်ခဲ့ပါသည်။

၁၆။ ဆုံးဖြတ်ရန်အချက်

ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီလီမိတက် (Jewellery Lucky Production Co., Ltd ) မှ သစ်အခြေခံ ကုန်ချောပစ္စည်းများ ထုတ်လုပ်သည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ ၁၃,
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ကုန်သွယ်မှု မူဝါဒ ကောင်စီ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် များ၏ အမည် | ဒါရိုက်တာ/အစုရှင် များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် ( Jewellery Lucky Production Co., Ltd.) | ၁။ ဦးကျော်စိန် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၈၃၈)၊ဦးဝိစာရလမ်းနှင့် ယမနေ (၆)လမ်းထောင့်၊ ၁၄ ရပ်ကွက်၊ဒဂုံ(မြောက်ပိုင်း )မြို့နယ်၊ ရန်ကုန်တိုင်း။ |
| | | ၂။ ဦးစိုင်းအောင်သန်း (ဒါရိုက်တာ) | အမှတ်(၇/၁၆)၊စကားဝါလမ်း၊ (၈)ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)။ |
| | | ၃။ ဦးတင်ညွန့် (ဒါရိုက်တာ) | အမှတ်(၇၄၉/ခ)၊ဇောတိကလမ်း၊ ၁၆/၁ ရပ်ကွက်၊ သဃ်န်းကျွန်း မြို့နယ်၊ ရန်ကုန်တိုင်း။ |
| | | ၄။ ဦးစိန်ဝင်း (ဒါရိုက်တာ) | အမှတ်(၉/၂၇၃)၊ ဝိဓူရလမ်း၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်း။ |
| | | ၅။ ဦးသောင်းထိုက်မင်း (ဒါရိုက်တာ) | အမှတ်(၆၂/အီး)၊ရွှေဟသ်ာလမ်း၊ (၁၁)ရပ်ကွက်၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၆။ ဒေါ်ရှောက်ဖိန် (ဒါရိုက်တာ) | နယ်မြေ(၁၇)လမ်း၊ ၅-ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း)။ |
| | | ၇။ ဒေါ်ခင်မြတ်မွန် (ဒါရိုက်တာ) | အမှတ်(၁၂)၊ ၅-လွှာ၊ စောရန်ပိုင် (တောင်)ရပ်ကွက်၊ ရာမလမ်း၊ အလုံ မြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်းနံပါတ်အမှတ်/ ဖက်(စ်)နံပါတ် | - | ၀၁-၂၄၃၁၃၀၊ ၂၄၃၁၃၀၊ ၂၄၃၁၃၄၊ ၂၄၃၁၃၅<br>၀၁-၂၄၃၀၉၆ |
| ၂။ ကုမ္ပဏီ၏ လိပ်စာပြည့်အစုံ | - | အမျိုးသားရေကူးကန်ဝင်း၊ ဦးဝိစာရလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်၊အမည်၊ ရာထူး | - | ဦးကျော်စိန် (အုပ်ချုပ်မှု ဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့်လုပ်ငန်းများ | - | သစ်အခြေခံကုန်ချောများထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - | ၁၀၀၂/၂၀၀၇-၂၀၀၈(၂၀-၁၁-၂၀၀၇) |
| ၆။ ကုမ္ပဏီသက်တမ်းကုန်ဆုံးမည့်နေ့ | - | (၁၉-၁၁-၂၀၀၉) |
| ၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် | | မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် IDA-0493265 |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
## ဝန်ကြီးရုံး
## နေပြည်တော်

စာအမှတ်၊ ၇/ ရင်းနှီးမြှုပ်နှံမှု (ခစ) /(၁၃၄/၂၀၀၈)။
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ( ၈ ) ရက်။

အကြောင်းအရာ ။ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၂-၂၀၀၈) ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၉၉၉/၂၀၀၈(၄၃၂၉)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်း ကျေးရွာ တောင်ရင်းကွင်းရှိ မြေ(၈.၀၀)ဧကတွင် ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု လုပ်ငန်းကော်မတီလီမိတက်မှ သစ်အခြေခံ စက်မှုလုပ်ငန်းကို ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အားလိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)လျှပ်စစ် စွမ်းအားဝန်ကြီးဌာန အပေါ် သဘောထားမှတ်ချက် တောင်းခံသည့် ရည်ညွှန်းပါစာအား လက်ခံရရှိခဲ့ပါသည်။

၂။ အထက်ပါကိစ္စနှင့် စပ်လျဉ်း၍ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်း ကျေးရွာ တောင်ရင်းကွင်းရှိ မြေ (၈.၀၀) ဧကရှိ ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု လုပ်ငန်းကော်မတီလီမိတက်၏ လိုအပ်သော လျှပ်စစ်ဓာတ်အား (၆၀၀) ကေဗွီအေအား ဓာတ်အားဖြန့်ဖြူးပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )

( ဒေါက်တာသိန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၇

စောင်ရေအမှတ်(၁)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပြည်ထဲရေးဝန်ကြီးဌာန
(ဝန်ကြီးရုံး)

စာအမှတ် ၊ ပထရ / ၄ - ၅ (၈၂၄) / ဦး ၄
ရက်စွဲ၊ ၂၀၀၇ ခုနှစ်အောက်တိုဘာလ ၈ ရက်

သို့
ဝန်ကြီး
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ မြန်မာကုမ္ပဏီ(၅၈)ခုနှင့်ပတ်သက်၍စိစစ်တင်ပြခြင်း၊

ရည် ညွှန်း ချက်။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၏၁၀-၇-၂၀၀၇ ရက်စွဲပါ စာအမှတ် အမစ-၁/၃/၄၁(၁၆၂၂/၂၀၀၇)

၁။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနမှရည်ညွှန်းပါစာဖြင့် ကုမ္ပဏီသက်တမ်းတိုးရေးအတွက် စိစစ်ပေးရန် ပေးပို့လာသည့် စကားဖြူ ရောင်းဝယ်ရေးကုမ္ပဏီလီမိတက် ပါမြန်မာကုမ္ပဏီ(၅၈)ခုနှင့်ပတ်သက်၍ ဒါရိုက်တာအဖွဲ့ဝင် (၁၄၉)ဦးအပေါ် စိစစ်ခဲ့ပါသည်၊

၂။ ထိုသို့စိစစ်ချက်အရအောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) ဆုသီရိကျော် သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်မှဒါရိုက်တာအဖွဲ့ဝင် ဦးကြူစီချန်မှာ မူလ လိပ်စာတွင် နေထိုင်ခြင်းမရှိသဖြင့် စိစစ်နိုင်မှုမရှိကြောင်း၊

(ခ) အောင်မနေသူခကုမ္ပဏီလီမိတက်မှဒါရိုက်တာဦးထိန်လင်းသည် ဂျပန်နိုင်ငံတွင်နေထိုင်သဖြင့် စိစစ်နိုင်ခြင်းမရှိကြောင်း၊

(ဂ) နှင်းကောင်းကင်ကုမ္ပဏီလီမိတက် ၏ဒါရိုက်တာအဖွဲ့ဝင်(၄)ဦးအနက်ဒါရိုက်တာအဖွဲ့ဝင် ဒေါ်နန်းဆိုင်နွံမှာရှမ်းပြည်နယ်(တောင်ပိုင်း)ကျေးသီး မြို့နယ်၊ဝမ်ဟိုင်းကျေးရွာနေအထူး ဒေသ(၃)(အက်စ်အက်စ်အေ)အဖွဲ့မှဗိုလ်မှူးအဆင့်ရှိ ဖခင်ဦးထမ်ဖ၏နေအိမ်သို့ရောက်ရှိ နေပြီး ဒါရိုက်တာဒေါ်နန်းလိမ်ခမ်းသည် ရှမ်းပြည်နယ်(တောင်ပိုင်း)ကျေးသီးမြို့နယ်၊ ပန်လော့ ကျေးရွာ တွင်နေထိုင်လျက်ရှိသဖြင့် ၎င်းတို့(၂)ဦးအားစိစစ်နိုင်မှုမရှိကြောင်း၊

(ဃ) အောင်မိုးခိုင်ကုမ္ပဏီလီမိတက်မှဒါရိုက်တာဦးအောင်ဖြိုးမှာ ကိုယ်ရေးအချက်အလက် ၌ ဖော်ပြ ပါရှိသည့် နေရပ်လိပ်စာတွင် နေထိုင်ခြင်းမရှိဘဲ ပြည်ပသို့ရောက်ရှိနေသဖြင့် စိစစ်နိုင်ခြင်းမရှိ ကြောင်း၊

(င) အောင်ခင်ဖြိုးအပြည်ပြည်ဆိုင်ရာရောင်းဝယ်ရေးကုမ္ပဏီလီမိတက်မှာဖော်ပြသည့်လိပ်စာတွင် မရှိ သည့်အပြင် ဒါရိုက်တာများသည်လည်း ဖော်ပြပါလိပ်စာတွင်နေထိုင်ခြင်းမရှိ၍စိစစ်နိုင်ခြင်းမရှိ ကြောင်းနှင့်အောင်လှိုင်ဖြိုး ကုမ္ပဏီလီမိတက် မှာလည်းဆက်သွယ်ဆောင်ရွက်ခြင်း မရှိသဖြင့် စိစစ်နိုင်ခြင်းမရှိကြောင်း၊

(စ) ပြည်ကျော်ညွှန့် နှင့်အပေါင်းသင်းများ ကုမ္ပဏီလီမိတက်မှဒါရိုက်တာအဖွဲ့ဝင်ဦးကျော်မြင့်လွင် မှာ ခရီးလွန်နေ၍ စိစစ်နိုင်ခြင်းမရှိကြောင်း၊ ဒါရိုက်တာဦးစိုးသူရိန်မင်း နှင့် ဒေါ်မိုးသီတာဝင်း တို့အနေဖြင့်ကိုယ်ရေးမှတ်တမ်းပုံစံများပြန်လည်တင်ပြခြင်းမရှိသဖြင့် စိစစ်နိုင်ခြင်းမရှိကြောင်း

D:/Admin company 58

(ဈ) ပေါ်ထွန်းလာသောဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှာဖော်ပြပါလိပ်စာတွင်မရှိသည့်အပြင် ဒါရိုက်တာ အဖွဲ့ဝင်ဒေါ်သဇင်အောင်မှာလည်း စင်္ကာပူနိုင်ငံတွင်သွားရောက်အလုပ် လုပ်ကိုင်နေသဖြင့်စိစစ်နိုင်ခြင်းမရှိကြောင်း၊

(ဉ) မြန်မာရဲတံခွန်သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်၏ ဒါရိုက်တာ ဦးကျော်စွာမြင့် သည် ASIAN FRENDSHIP GROUP Co.Ltd. ကိုဖွဲ့စည်းခဲ့ပြီး အုပ်ချုပ်မှုဒါရိုက်တာအဖြစ် ဆောင်ရွက်ခဲ့စဉ် ၂၀၀၀ ပြည့်နှစ်အတွင်းက ရွှန်းလဲ့တော်ဝင်ရတနာကုမ္ပဏီလီမိတက်ဥက္ကဌ ဦးကိုကိုလေးထံမှ ငွေကျပ်သိန်း(၁၉၀)ကျော် အလွဲသုံးစား ပြုသည့်ကိစ္စအပေါ် အထူးစုံစမ်းစစ်ဆေးရေးဦးစီးဌာနမှ စုံစမ်းခဲ့ရာအဆိုပါအမှုမှာ နှစ်ဦးနှစ်ဖက်အပြန်အလှန် တရားမမှုများဖြင့် စွဲဆိုကြသည့်ကိစ္စဖြစ်သဖြင့် စုံစမ်းမှုရပ်စဲခဲ့ပါကြောင်း၊ ထို့အပြင် ASIAN FRENDSHIP GROUP Co.Ltd ကုမ္ပဏီသည် ၂၀၀၄ ခုနှစ် အတွင်းစင်္ကာပူနိုင်ငံရှိ ROYAL GLOBAL PTE;.Ltd. ထံမှအကျိုးဆောင်ခငွေ အမေရိကန်ဒေါ်လာ (၂. ၃)သိန်း လိမ်လည် ရယူခဲ့သည့်ကိစ္စအပေါ် အထူးစုံစမ်းစစ်ဆေးရေးဦးစီးဌာနမှ စုံစမ်းခဲ့ရာASIAN FRENDSHIP GROUP Co.Ltd.မှဒါရိုက်တာအဖွဲ့ဥက္ကဌ ဦးကျော်စွာမြင့်သည် စင်္ကာပူနိုင်ငံရှိ ROYAL GLOBAL PTE;.Ltd ထံမှ ၁၆-၉-၂၀၀၂ ရက်စွဲပါသစ်ဝယ်ယူတင်ပို့ရန် ပဋိညာဉ် စာချုပ်ဖြင့်အကျိုးဆောင်ခငွေ အမေရိကန်ဒေါ်လာ(၂. ၃)သိန်း ကိုလက်ခံရယူခဲ့သော်လည်း သစ်များတင်ပို့နိုင်ခြင်းမရှိသည့်အပြင်ငွေများပြန်လည်ပေးအပ်နိုင်ခဲ့ခြင်း မရှိကြောင်း စစ်ဆေးပေါ်ပေါက်သဖြင့် ASIAN FRENDSHIP GROUP ကုမ္ပဏီနှင့်လူပုဂ္ဂိုလ်အပေါ် အမည်ပျက်စာရင်းကြေညာနိုင်ရန် စုံစမ်းတွေ့ရှိချက်များကို ပြည်ထဲရေးဝန်ကြီးဌာန၏ ၂၆-၂-၂၀၀၅ ရက်စွဲပါ စာအမှတ် ၃/(၅-၄၃)၂၀၀၄/ဦး၁ ဖြင့် အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာနသို့အကြောင်း ကြားခဲ့ကြောင်း၊

၃။ သို့ဖြစ်ပါ၍အထက်အပိုဒ်၂ (က)မှ(ဆ)ထိစိစစ်နိုင်ခြင်းမရှိသောကုမ္ပဏီဒါရိုက်တာများနှင့်အပိုဒ်၂ (ဇ) ပါမြန်မာ့ရဲတံခွန်သတ္တုတူးဖော်ရေး ကုမ္ပဏီနှင့်ဒါရိုက်တာဦးကျော်စွာမြင့်တို့မှအပကျန်ကုမ္ပဏီများနှင့်ကျန် ဒါရိုက်တာအဖွဲ့ ဝင်များသည်နိုင်ငံရေး၊စီးပွားရေးဖြစ်မှုမှတ်တမ်းမရှိပါကြောင်းစိစစ်တွေ့ရှိချက်အားသိရှိနိုင်ပါရန်ပြန်ကြားအပ[illegible]သည်။

ဝန်ကြီး(ကိုယ်စား)
(နေမျိုးရုံးအဖွဲ့မှူး)

မိတ္တူကို
လက်ခံ

| | |
|---|---|
| ညွှန်ချုပ် | [illegible] |
| ဒု-ညွှန်ချုပ် | |
| ညွှန်မှူး | |
| ဒု-ညွှန်မှူး | |
| လ/ထ ညွှန်မှူး | |
| ဦးစီးအရာရှိ | |
| ဒု-ဦးစီးမှူး | |
| [illegible] | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်း နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ အမစ- ၁/၃/၄၁(၁၆၂၂ / ၂၀၀၇)၊
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဇူလိုင်လ (၁၀ )ရက်။

အကြောင်းအရာ။ __စိစစ်မှုများ ပြုလုပ်ပေးရေးကိစ္စ ။__

အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာကုမ္ပဏီ စုစုပေါင်း (၅၈)ခုကို ကုမ္ပဏီဖွဲ့စည်းမှတ်ပုံတင်နိုင်ရန်အတွက် လိုအပ်သော စိစစ်မှုများ ပြုလုပ်ပြန်ကြားပေးပါရန် အဆိုပါကုမ္ပဏီများ၏ __ပူးတွဲ(က)__ ပါလုပ်ငန်းအမျိုးအစားအလိုက် ကုမ္ပဏီများစာရင်းနှင့် __ပူးတွဲ(ခ-၁)__မှ __(ခ-၅၈)__ထိပါဒါရိုက်တာအဖွဲ့ဝင်အမည်စာရင်းများပူးတွဲပေးပို့လျက် မေတ္တာရပ်ခံအပ်ပါသည်။

( ဗိုလ်မှူးကြီးသူရိန်ဇော်)
ဒုတိယဝန်ကြီး

__ပြည်ထဲရေးဝန်ကြီးဌာန၊__
မိတ္တူကို -
(၁) ရုံးလက်ခံ
(၂) မျှောစာတွဲ

33 အုပ်

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား |
|---|---|---|
| ၄၀။ | နှင်းကောင်းကင်ကုမ္ပဏီလီမိတက်<br>Snow Sky Co.,Ltd. | စက်မှုလက်မှုနှင့်ထုတ်လုပ်မှု<br>(၁)လယ်/ကိုင်း(၂)သစ်တောထွက်<br>(၃) လူသုံး(၄)သတ္တု |
| ၄၁။ | မဟာအောင်နိုင်သူ(ကလော)သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်<br>Great Winner (Kalaw)Mining Co.,Ltd. | စက်မှုလက်မှုနှင့်ထုတ်လုပ်မှု<br>(၁) လယ်/ကိုင်း (၂) သစ်တောထွက်<br>(၃) ယာဉ်/စက်(၄)သတ္တု |
| ၄၂။ | လေးကျွန်းမြင့်မိုရ်ထုတ်လုပ်မှုလုပ်ငန်းကုမ္ပဏီ လီမိတက်<br>Lay Kyun Myintmo Manufacturing Co.,Ltd. | စက်မှုလက်မှုနှင့်ထုတ်လုပ်မှု<br>(၁) လယ်/ကိုင်း (၂) သစ်တောထွက်<br>(၃) ဓါတ်မြေသြဇာ(၄)သတ္တု |
| ၄၃။ | ရွှေမာဃရွှေနှင့်သတ္တုထုတ်လုပ်မှုကုမ္ပဏီ လီမိတက်<br>Shwe Mar Ga Golden & Mining Co.,Ltd. | စက်မှုလက်မှုနှင့်ထုတ်လုပ်မှု<br>(၁) လယ်/ကိုင်း (၂) ဓါတ်မြေသြဇာ<br>(၃) အထည်(၄)သတ္တု |
| ၄၄။ | ဝင်းစုမိုးစက်မှုလုပ်ငန်းများကုမ္ပဏီလီမိတက်<br>Win Su Moe Industries Co.,Ltd. | စက်မှုလက်မှုနှင့်ထုတ်လုပ်မှု<br>(၁) လယ်/ကိုင်း (၂) သစ်တောထွက်<br>(၃) လူသုံး(၄)အိမ်သုံး |
| ၄၅။ | ကံကောင်းခြင်းရတနာထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်<br>Jewellery Luck Production Co.,Ltd. | စက်မှုလက်မှုနှင့်ထုတ်လုပ်မှု<br>(၁) သစ်တောထွက် (၂) ရေထွက်<br>(၃) ဆောက်လုပ်ရေး(၄) သတ္တု |
| | ခရီးသွားလုပ်ငန်း(၅)ခု | |
| ၄၆။ | ရွှေမြန်မာစံခရီးသွားလာရေး ကုမ္ပဏီလီမိတက်<br>Shwe Myanmar San Travels & Tours Co.,Ltd. | ခရီးသွား |

## ခွင့်ပြုမိန့်ရရှိရန် တင်ပြထားသော မြန်မာကုမ္ပဏီများစာရင်း
## (စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း)

ကုမ္ပဏီအမည် - ကံကောင်းခြင်းရတနာထုတ်လုပ်မှုလုပ်ငန်း
ကုမ္ပဏီလီမိတက်
Jewellery Lucky Production Co.,Ltd.

ကုမ္ပဏီလိပ်စာ - အမျိုးသားရေကူးကန်ဝင်း၊ဦးဝိစာရလမ်း၊ဒဂုံမြို့နယ်၊
ရန်ကုန်မြို့။

| စဉ် | ဒါရိုက်တာအမည်နှင့် မှတ်ပုံတင်အမှတ် | နေရပ် |
|---|---|---|
| ၁။ | ဦးကျော်စိန်(ခ)ဝေချင်*<br>၁၃/လရန(နိုင်)ဝ၅၉၆၃၆ | အမှတ်(၈၃၈)၊ဦးဝိစာရလမ်းနှင့်ယမနေ၆-လမ်းထောင့်၊<br>(၃၄)ရပ်ကွက်၊ဒဂုံ(မြောက်ပိုင်း)မြို့နယ်၊ရန်ကုန်မြို့။ |
| ၂။ | ဦးစိုင်းအောင်သန်း*<br>၁၃/လရန(နိုင်)ဝ၅၅ဝဝ၄ | အမှတ်(၇/၁၆)၊စကားဝါလမ်း၊(၈)ရပ်ကွက်၊လားရှိုးမြို့နယ်၊<br>ရှမ်းပြည်(မြောက်ပိုင်း)။ |
| ၃။ | ဦးတင်ညွန့်*<br>၁၂/တမန(နိုင်)ဝ၃၆၃၃၄ | အမှတ်(၇၄၉/ခ)၊ဇောတိကလမ်း၊၁၆/၁ ရပ်ကွက်၊<br>သဃ်န်းကျွန်းမြို့နယ်၊ရန်ကုန်မြို့။ |
| ၄။ | ဦးစိန်ဝင်း*<br>၇/ပခန(နိုင်)၁၆၉၉၄၉ | အမှတ် ၉/၂၇၃၊ဝိမ္မူရလမ်း၊ပဲခူးမြို့၊ပဲခူးတိုင်း။ |
| ၅။ | ဦးသောင်းထိုက်မင်း*<br>၉/မထလ(နိုင်)ဝဝ၁၉၃ဝ | အမှတ် ၆၂/အီး၊ရွှေဟင်္သာလမ်း၊(၁၁)ရပ်ကွက်၊လှိုင်မြို့နယ်၊<br>ရန်ကုန်မြို့။ |
| ၆။ | ဒေါ်ရှောက်ဖိန်*<br>၁၃/လရန(နိုင်)ဝ၈၅၄၉၃ | နယ်မြေ(၁၇)လမ်း၊(၅)ရပ်ကွက်၊လားရှိုးမြို့နယ်၊<br>ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| ၇။ | ဒေါ်ခင်မြတ်မွန်*<br>၁၂/ဒဥန(နိုင်)ဝ၄၉၉၅၆ | အမှတ်(၁၂)၊၅-လွှာ၊စောရန်ပိုင်တောင်ရပ်ကွက်၊ရာမလမ်း၊<br>အလုံမြို့နယ်၊ရန်ကုန်မြို့။ |

မတည်ငွေရင်း(ကျပ်) - ၅ဝဝ,ဝဝဝ,ဝဝဝ/(ကျပ်သန်းငါးရာတိတိ)
အစုရှယ်ယာတစ်စုတန်ဖိုး - ၁ဝ,ဝဝဝ/-
အစုရှယ်ယာပေါင်း - ၅ဝ,ဝဝဝ စု

ကနဦးထည့်ဝင်မည့်မတည်ငွေရင်း(ကျပ်) - ၅ဝ,ဝဝဝ,ဝဝဝ/ (ကျပ်သန်းငါးဆယ်တိတိ)
ဝယ်ယူပြီးအစုရှယ်ယာ-၅ဝဝဝ စု

- သစ်တော
- ရေထွက်
- ဆောက်လုပ်ရေး
- သတ္တု

ဖွဲ့စည်းမှတ်ပုံတင်နိုင်ရန်အတွက်မြန်မာကုမ္ပဏီ(၅၈)ခုအားစိစစ်ပေးရန်ပေးပို့ခဲ့ရာ ပြည်ထဲရေးဝန်ကြီးဌာန၏ (၈၊၁ဝ.၂ဝဝ၇) ရက်စွဲပါ စာအမှတ်-ပထရ/၄-၅ (၈၂၄)/ ဦး ၄ဖြင့် အမှတ်စဉ် (၄၅) အထက်ပါ ကုမ္ပဏီမှ ဒါရိုက်တာ အဖွဲ့ဝင်များ အနေဖြင့် နိုင်ငံရေး၊ စီးပွားရေး၊ ဆန့်ကျင်ဘက် မှုခင်းသတင်း မှတ်တမ်းများတွင် မတွေ့ရှိပါကြောင်း စိစစ်ပြန်ကြားခဲ့ပြီးဖြစ်ပါသည်။

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်အမည် | ဒါရိုက်တာ/ အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| | ကံကောင်းခြင်းရတနာ ထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Jewellery Lucky Production Co:, Ltd) | ၁။ဦးကျော်စိန် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၈၃၈)၊ဦးဝိစာရလမ်းနှင့် ယမနေ (၆)လမ်း ထောင့်၊ (၃၄)ရပ်ကွက်၊ ဒဂုံ(မြောက်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း။ |
| | | ၂။ဦးစိုင်းအောင်သန်း ဒါရိုက်တာ | အမှတ်(၇/၁၆)၊ စကားဝါလမ်း၊ (၈) ရပ်ကွက်၊ လားရှိုး မြို့နယ်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း)။ |
| | | ၃။ဦးတင်ညွန့် ဒါရိုက်တာ | အမှတ်(၇၄၉/ခ)၊ ဇောတိကလမ်း၊ ၁၆/၁ ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်း။ |
| | | ၄။ဦးစိန်ဝင်း ဒါရိုက်တာ | အမှတ်(၉/၂၇၃)၊ဝိဇ္ဇုရလမ်း၊ပဲခူးမြို့နယ်၊ ပဲခူးတိုင်း။ |
| | | ၅။ဦးသောင်းထိုက်မင်း ဒါရိုက်တာ | အမှတ်(၆၂/အီး)၊ရွှေဟင်္သာလမ်း၊(၁၁)ရပ်ကွက်၊ လှိုင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | ၆။ဒေါ်ရှောက်ဖိန် ဒါရိုက်တာ | နယ်မြေ(၁၇)လမ်း၊ ၅-ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| | | ၇။ဒေါ်ခင်မြတ်မွန် ဒါရိုက်တာ | အမှတ်(၁၂)၊၅ လွှာ၊ စောရန်ပိုင် (တောင်) ရပ်ကွက်၊ ရာမလမ်း၊အလုံမြို့နယ်၊ရန်ကုန်မြို့။ |

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်အမည် | ဒါရိုက်တာ/ အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| | ကံကောင်းခြင်းရတနာ ထုတ်လုပ်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ၁။ဦးကျော်စိန် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၈၃၈)၊ဦးဝိစာရလမ်းနှင့် ယမနေ (၆)လမ်း ထောင့်၊ (၃၄)ရပ်ကွက်၊ ဒဂုံ(မြောက်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း။ |
| | (Jewellery Lucky Production Co., Ltd) | ၂။ဦးစိုင်းအောင်သန်း ဒါရိုက်တာ | အမှတ်(၇/၁၆)၊ စကားဝါလမ်း၊ (၈) ရပ်ကွက်၊ လားရှိုး မြို့နယ်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း)။ |
| | | ၃။ဦးတင်ညွန့် ဒါရိုက်တာ | အမှတ်(၇၄၉/ခ)၊ ဇောတိကလမ်း၊ ၁၆/၁ ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်း။ |
| | | ၄။ဦးစိန်ဝင်း ဒါရိုက်တာ | အမှတ်(၉/၂၇၃)၊ဂိဓူရလမ်း၊ပဲခူးမြို့နယ်၊ ပဲခူးတိုင်း။ |
| | | ၅။ဦးသောင်းထိုက်မင်း ဒါရိုက်တာ | အမှတ်(၆၂/အီး)၊ရွှေဟသ်ာလမ်း၊(၁၁)ရပ်ကွက်၊ လှိုင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | ၆။ဒေါ်ရှောက်ဖိန် ဒါရိုက်တာ | နယ်မြေ(၁၇)လမ်း၊ ၅-ရပ်ကွက်၊ လားရှိုးမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| | | ၇။ဒေါ်ခင်မြတ်မွန် ဒါရိုက်တာ | အမှတ်(၁၂)၊၅ လွှာ၊ စောရန်ပိုင် (တောင်) ရပ်ကွက်၊ ရာမလမ်း၊အလုံမြို့နယ်၊ရန်ကုန်မြို့။ |

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၇/ ရင်းနှီးမြှုပ်နှံမှု (ခစ) /(၁၃၄၅/၂၀၀၈)။
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ( ၈ ) ရက်။

အကြောင်းအရာ ။ ။ **<u>သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ။</u>**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၂-၂၀၀၈) ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၉၉၉/၂၀၀၈(၄၃၂၉)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်း ကျေးရွာ တောင်ရင်းကွင်းရှိ မြေ(၈.၀၀)ဧကတွင် ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု လုပ်ငန်းကော်မတီလီမိတက်မှ သစ်အခြေခံ စက်မှုလုပ်ငန်းကို ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အားလိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)လျှပ်စစ် စွမ်းအားဝန်ကြီးဌာန အပေါ် သဘောထားမှတ်ချက် တောင်းခံသည့် ရည်ညွှန်းပါစာအား လက်ခံရရှိခဲ့ပါသည်။

၂။ အထက်ပါကိစ္စနှင့် စပ်လျဉ်း၍ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘယ်လင်း ကျေးရွာ တောင်ရင်းကွင်းရှိ မြေ (၈.၀၀) ဧကရှိ ကံကောင်းခြင်းရတနာ ထုတ်လုပ်မှု လုပ်ငန်းကော်မတီလီမိတက်၏ လိုအပ်သော လျှပ်စစ်ဓာတ်အား (၆၀၀) ကေဗွီအေအား ဓာတ်အားဖြန့်ဖြူးပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
( ဒေါက်တာသိန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ် )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

TLL ၁၃၄၅/ ၇.၂